ကုမ္ပဏီအမည် - King Lead Ind Company Limited

လုပ်ငန်း - CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးနှင့် တစ်စိတ်တစ်ပိုင်း ပြီးစီးသည့် ဖိနပ်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၉-၅-၂၀၁၅ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က)ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ | ၂၆-၅-၂၀၁၅ | ၁၆-၆-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၆-၅-၂၀၁၅ | ၂၃-၆-၂၀၁၅ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၂၆-၅-၂၀၁၅ | ၁၂-၆-၂၀၁၅ | |
| | (ဃ) CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ | ၂၆-၅-၂၀၁၅<br>၁၇-၈-၂၀၁၅ | ၁၄-၇-၂၀၁၅<br>၃၁-၈-၂၀၁၅ | (ပ)<br>(ဒု) |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၁၇/၂၀၁၅) သို့ တင်ပြခြင်း | ၂၅-၅-၂၀၁၅ | | |
| ၄ | အဆိုပြုချက်လက်ခံကြောင်း အကြောင်းကြားခြင်း | ၂၅-၅-၂၀၁၅ | | |
| ၅ | ကုမ္ပဏီသို့ အဆိုပြုလွှာ ပြန်လည်ပေးပို့ခြင်း | ၁၀-၈-၂၀၁၅ | | |
| ၆ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပြင်ဆင်၍ အဆိုပြုလွှာ (၇)စုံ ပေးပို့ခြင်း | ၃၁-၈-၂၀၁၅ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၁၀၃ ရက်** | | | |

ဖော်ပြပါအဆိုပြုချက်တွင်ပြင်ဆင်ရန်လိုအပ်ချက်များတင်ပြမှုကြန့်ကြာနေ၍တင်ပြချိန် ၇၉ ရက် (၁၀-၈-၂၀၁၅) တွင် အဆိုပြုချက် ပြန်လည်ပေးပို့ခဲ့ပါသည်။ ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်၍ ၃၁-၈-၂၀၁၅ တွင် ပြန်လည် ပေးပို့လာပါသဖြင့် စုစုပေါင်း ၁၀၃ ရက် ကြာမြင့်ရခြင်း ဖြစ်ပါသည်။

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် King Lead Ind Company Limited မှ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးနှင့် တစ်စိတ်တစ်ပိုင်း ပြီးစီးသည့် ဖိနပ်အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - King Lead Ind Company Limited<br>- Mr. Lee, Yuan-Jiun (ထိုင်ဝမ်) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Ascend Holding Co., Ltd. (ဘရူနိုင်း) ၉၉%<br>- Mrs. Hsu, Chu-Li (ထိုင်ဝမ်) ၁% |
| | လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးနှင့် တစ်စိတ်တစ်ပိုင်း ပြီးစီးသည့် ဖိနပ်အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်(၁+၂)၊ မြေတိုင်းရပ်ကွက်အမှတ် ၁၄၄၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး |
| | မြေပိုင်ရှင် | - ဒေါ်နန်းလီ |
| | မြေအကျယ်အဝန်း | - စုစုပေါင်း ၄.၈၃၆ ဧက (၁၉၅၇၀.၆၁၅ စတုရန်းမီတာ) |
| | မြေငှားရမ်းကာလ | - ကနဦး ၁၀ နှစ် (သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်) |
| ၃။ | နှစ်စဉ်မြေနှင့်အဆောက်အဦ ငှားရမ်းခ | - US$ ၉၇,၈၅၃<br>တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၅ |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၁၀ နှစ် (သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်) |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၄.၉၀၃ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | US$ (သန်း) |
| | ငွေသား | ၀.၁၅၀ |
| | စက်ပစ္စည်း (ပြည်ပ) | ၃.၂၀၆ |
| | ရုံးအသုံးအဆောင် (ပြည်တွင်း) | ၀.၀၄၇ |
| | အဆောက်အဦတည်ဆောက်မှု | ၁.၅၀၀ |
| | **စုစုပေါင်း** | **၄.၉၀၃** |
| ၆။ | ဝန်ထမ်းအင်အား(ပထမနှစ်) | - **၉၆၁ ဦး** |
| | ပြည်တွင်း | - ၉၅၂ ဦး (ပြည်တွင်းအနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏လစာ ကျပ် ၉၀,၀၀၀ နှင့် အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏လစာ ကျပ် ၂၅၀,၀၀၀) |
| | ပြည်ပ | - ၉ ဦး ( ပြည်တွင်းအနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏လစာ US$ ၁,၁၅၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ US$ ၂,၀၀၀ ) |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်ပသို့ ၁၀၀% တင်ပို့မည်ဖြစ်ပါသည်။ |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ်) | - US$ ၄.၇၅၂ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဋ္ဌမနှစ်) | - US$ ၄.၃၃၆ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဋ္ဌမနှစ်) | - US$ ၀.၄၁၆ သန်း |

| | | |
|---|---|---|
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဌမနှစ်) | |
| | ဝင်ငွေခွန် | - US $ ၀.၁၃၉ သန်း |
| | အရင်းကြေကာလ | - ၅ နှစ် ၁၁ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၆.၈၂% |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (ပထမနှစ်) | - ၉၆၀ KVA |
| ၁၁။ | CSR (၂%) | - ရပ်ရွာအကျိုးပြုအစီအစဉ် (Corporate Social Responsibility) အဖြစ် နှစ်စဉ်ရရှိသော အမြတ်ငွေမှ ၂% ကို သုံးစွဲမည် ဖြစ်ကြောင်း တင်ပြ ထားပါသည်။ |
| ၁၂။ | မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | - မီးဘေးအန္တရာယ်ကာကွယ်ရေးအတွက်အရေးပေါ်မီးသတ်နည်းများအား စက်ရုံ၏ ဌာနတိုင်းတွင် ကပ်ထားမည်ဖြစ်ကြောင်း၊ မီးလောင်လျှင် ဦးစားပေး သယ်ဆောင်ရန်အစီအစဉ်အလိုက် သီးခြားအုပ်စုများ ဖွဲ့စည်းမည် ဖြစ်ပါကြောင်း၊စက်ရုံအတွင်းဆေးလိပ်သောက်ခြင်းအားတားမြစ်မည်ဖြစ်ပြီး ဆေးလိပ်သောက်ဧရိယာ သီးခြားထားပေးမည်ဖြစ်ပါကြောင်း၊အဆောက်အဦ၏ အထပ်တိုင်းတွင် မီးသတ်အချက်ပေးစနစ် ထားရှိမည်ဖြစ်ပါကြောင်းနှင့် အရေးပေါ်ဝင်/ထွက်ပေါက်လမ်းညွှန်ဆိုင်းဘုတ်များတပ်ဆင်ထားမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။ |
| ၁၃။ | အခြား | - King Lead Ind Company Limited ၏ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း မူကြမ်း၊ ဒါရိုက်တာ စာရင်း၊ နိုင်ငံကူး လက်မှတ် မိတ္တူများကို တင်ပြ ထားပါသည်။<br>- မြေအထောက်အထားအဖြစ်မူလမြေပိုင်ရှင်ဒေါ်ခင်သိန်းမြင့်မှ ဒေါ်နန်းလီထံသို့ လွှဲပြောင်း ရောင်းချထားပြီး လွှဲပြောင်းရောင်းချခြင်းစာချုပ်အားအခွန်ပေးဆောင်ပြီး ဖြစ်ပါသည်။ ဒေါ်ခင်သိန်းမြင့်မှ ဒေါ်နန်းလီသို့ အထူး ကိုယ်စားလှယ်လွှဲစာပေးအပ်ထားပြီး ၎င်းကိုယ်စားလှယ်လွှဲစာတင်ပြထားပါသည်။<br>- ဒေါ်နန်းလီအမည်ပြောင်းလျှောက်ထားဆဲဖြစ်ကြောင်း ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီသို့ လျှောက်ထားသည်များအား တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဒေါ်နန်းလီနှင့် King Lead Ind Company Limited တို့ ချုပ်ဆိုမည့် မြေငှားစာချုပ် မူကြမ်းအား ပူးတွဲတင်ပြထားပါသည်။<br>- Ascend Holding Co., Ltd. ၏ ငွေရေးကြေးရေး အထောက်အထားအဖြစ် ထိုင်ဝမ်ရှိ DBS Bank တွင် ၁၀-၃-၂၀၁၅ ရက်စွဲဖြင့် US$ ၁,၀၀၀,၀၈၅ ရှိကြောင်း တင်ပြထား ပါသည်။ |

| | | |
|---|---|---|
| | | - Ascend Holding Co., Ltd. မှ မြန်မာနိုင်ငံတွင် လုပ်ငန်းဆောင်ရွက်ရန်သဘောတူကြောင်းဒါရိုက်တာအဖွဲ့အစည်းအဝေး မှတ်တမ်းအား တင်ပြထားပါသည်။<br>- ဘရူနိုင်းနိုင်ငံတွင် Ascend Holding Co., Ltd. သည် ကုမ္ပဏီ မှတ်ပုံတင် အမှတ် NBD/14221 ဖြင့် ဖွဲ့စည်းတည်ထောင် ထားကြောင်းနှင့် ၎င်းကုမ္ပဏီ၏ ရှယ်ယာစာရင်းနှင့်ရှယ်ယာရှင်အမည်များအားတင်ပြထားပါသည်။<br>- ထုတ်လုပ်မည့် ပစ္စည်း၏ နမူနာဓာတ်ပုံများ၊ အမျိုးအစားတစ်ခုချင်း အတွက် အသုံးပြုမည့် ကုန်ကြမ်း သုံးစွဲမှုစာရင်း၊ ဆောက်လုပ်မည့် အဆောက်အဦ ဓာတ်ပုံများနှင့် စက်ရုံအတွင်း စက်လိုင်း တပ်ဆင်မည့် ဓာတ်ပုံများအားတင်ပြထား ပါသည်။<br>- အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၄၉/၂၀၁၄ ဖြင့် ထုတ်ပြန်ထားသည့် စီးပွားရေး လုပ်ငန်းအမျိုးအစားများတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာဆောင်ရွက်ရမည့်လုပ်ငန်း၊ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက် ရမည့်လုပ်ငန်း စာရင်းတို့တွင် မပါဝင်သဖြင့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါ သည်။<br>- လုပ်ငန်းခွင် သာယာရေးအတွက် ဆောင်ရွက် ထားရှိမှု၊ မီးဘေးကာကွယ်ရေးအစီအစဉ်အတွက်ဆောင်ရွက်ထားရှိမှုများ ဝန်ခံကတိပြုစာနှင့်ဝန်ထမ်းလစာကျပ် သိန်း ၂၀ ထက်ကျော်လွန်ပါက ဝင်ငွေခွန်ထမ်းဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာတို့ကို တင်ပြထားပါသည်။<br>- နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန်လျှောက်ထားလာပါသည်။ |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | -King Lead Ind Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | CMPစနစ်ဖြင့်ဖိနပ်အမျိုးမျိုးနှင့်တစ်စိတ်တစ်ပိုင်းပြီးစီးသည့်ဖိနပ်အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း |
| တည်နေရာ | - | မြေကွက်အမှတ်(၁+၂)၊မြေတိုင်းရပ်ကွက်အမှတ်၁၄၄/စက်မှု၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | US$ ၄.၉၀၃ သန်း |
| ရောင်းချမည့်စနစ် | - | ပြည်ပသို့ ၁၀၀% တင်ပို့မည်ဖြစ်ပါသည်။ |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၁၀ နှစ် (သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်) |
| အရင်းကြေကာလ | - | ၅ နှစ်နှင့် ၁၁ လ |
| IRR | - | ၁၆.၈၂% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၅၄၈ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၁၆၀.၃၀၀ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၅၄၇.၀၀၀ သန်း | ကျပ် ၆၉၀.၀၀၀ သန်း |
| ၅ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | - | ကျပ် ၁၂၉၆.၀၀၀ သန်း |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ် ဝင်ငွေ ကျပ် သိန်း (၂၀) ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၈) ဦး |
| ၇ | CSR (၂%) | | ကျပ် ၄၂ သန်း |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၉၅၂ ဦး<br>ပြည်ပ ၉ ဦး<br>ပြည်တွင်းလုပ်သား (၉၅၂)ဦးအလုပ်အကိုင် ရရှိမည် ဖြစ်၍ ဒေသ အလုပ် အကိုင် အခွင့် အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ပြုစေ ပါသည်။<br>အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | | ကျပ် ၇၀၈.၈၄၈ သန်း | ကျပ် ၂၀၂၉.၁၆၅ သန်း |
| | | ၁ း ၃ | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက-၃/န-၁၂၀၄/၂၀၁၅ ( ၁၂၂၄ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၇ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြမည့်အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် King Lead Ind Company Limited မှ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးနှင့် တစ်စိတ်တစ်ပိုင်း ပြီးစီးသည့် ဖိနပ်အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ဘရူနိုင်းဒါရုဆာလမ်နိုင်ငံ Ascend Holding Co., Ltd. မှ ၉၉% နှင့် Mrs. Hsu, Chu-Li မှ ၁% ထည့်ဝင်၍ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် King Lead Ind Company Limited တည်ထောင်ကာ မြေကွက်အမှတ်(၁+၂)၊မြေတိုင်းရပ်ကွက်အမှတ် ၁၄၄၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ ၄.၈၃၆ ဧက (၁၉၅၇၀.၆၁၅စတုရန်းမီတာ) ကို ငှားရမ်း၍ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးနှင့် တစ်စိတ်တစ်ပိုင်း ပြီးစီးသည့် ဖိနပ်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်းကို နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူမြေပိုင်ရှင်ဒေါ်နန်းလီနှင့် King Lead Ind Company Limited တို့ချုပ်ဆိုမည့် မြေငှားစာချုပ် မူကြမ်း၊ မြေပိုင်ဆိုင်မှု အထောက်အထားများ၊ ဆောက်လုပ်မည့် အဆောက်အဦဓာတ်ပုံများ၊ ထုတ်လုပ်မည့်ပစ္စည်း၏ နမူနာဓာတ်ပုံများ၊ အသုံးပြုမည့် စက်ပစ္စည်း ဓာတ်ပုံများ၊ Ascend Holding Co., Ltd. နှင့် King Lead Ind Co., Ltd. တို့ချုပ်ဆိုမည့် (Processing Contract) (မူကြမ်း)၊ မြန်မာနိုင်ငံတွင် ဖွဲ့စည်းတည်ထောင်မည့် ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း တို့ကို ပူးတွဲ တင်ပြ ထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး၁၀ နှစ်နှင့် သက်တမ်းတိုး ၅ နှစ် နှစ်ကြိမ် ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ ၄.၈၃၆ ဧက(၁၉၅၇၀.၆၁၅ စတုရန်းမီတာ) ဖြစ်ပါသည်။ မြေနှင့် အဆောက်အဦ ငှားရမ်းခမှာ တစ်နှစ်လျှင် US$ ၉၇,၈၅၃ ဖြစ်ပြီး တစ်နှစ် ၁ စတုရန်း မီတာလျှင် US$ ၅.၀၀ နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၁၀ နှစ်၊ သက်တမ်းတိုး ၅ နှစ် ၂ ကြိမ် ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ ၁ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၄.၉၀၃ သန်း ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းမှ ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | US$ (သန်း) |
|---|---|
| ငွေသား | ၀.၁၅၀ |
| စက်ပစ္စည်း (ပြည်ပ) | ၃.၂၀၆ |
| ရုံးအသုံးအဆောင် (ပြည်တွင်း) | ၀.၀၄၇ |
| အဆောက်အဦတည်ဆောက်မှု | ၁.၅၀၀ |
| **စုစုပေါင်း** | **၄.၉၀၃** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၉၅၂ ဦးနှင့် ပြည်ပမှ ဝန်ထမ်း ၉ ဦး စုစုပေါင်း ၉၆၁ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်း တစ်ဦး လစာ ကျပ် ၉၀,၀၀၀ နှင့်အမြင့်ဆုံးလစာကျပ် ၂၅၀,၀၀၀ဖြစ်ပါသည်။ ပြည်ပအနိမ့်ဆုံးဝန်ထမ်းတစ်ဦး လစာ US$ ၁,၁၅၀ နှင့် အမြင့်ဆုံးလစာ US$ ၂,၀၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှ ထွက်ရှိသော ကုန်ချောပစ္စည်းများကို ပြည်ပသို့ ၁၀၀% တင်ပို့မည်ဖြစ်ပါ သည်။ ပုံမှန်နှစ် (၆နှစ်မြောက်)၏ ထုတ်လုပ်မှု အရေအတွက်နှင့် CMP လက်ခနှုန်းများမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| **အမျိုးအမည်** | **ထုတ်လုပ်မှု အရေအတွက် (Pair)** | **CMP လက်ခနှုန်း (Pair/US$)** |
|---|---|---|
| Men's Shoes | ၇၁၇,၈၂၂ | ၀.၈၀ |
| Ladies Shoes | ၈၆၁,၃၈၆ | ၀.၈၀ |
| Boots | ၈၆၁,၃၈၆ | ၁.၅၀ |
| Ladies Sandal Shoes | ၈၆၁,၃၈၆ | ၀.၈၀ |
| Children Shoes | ၇၁၇,၈၂၂ | ၀.၈၀ |
| Insole | ၇၁၇,၈၂၂ | ၀.၅၀ |
| Semi Products | ၇၁၇,၈၂၂ | ၀.၈၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄.၇၅၂ |
| (ခ) | အသုံးစရိတ် | ၄.၃၃၆ |
| (ဂ) | အသားတင်အမြတ် | ၀.၄၁၆ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေ မှာ ဝင်ငွေခွန် US $ ၀.၁၃၉ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၅ နှစ်နှင့် ၁၁ လ ဖြစ်ပြီး အရင်းအနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၆.၈၂% ဖြစ်ပါသည်။ အမေရိကန်တစ်ဒေါ်လာလျှင် ၁,၀၀၀ ကျပ်နှုန်းဖြင့် တွက်ချက် ဖော်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ ဌာနများမှ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ၂၀၁၅ခုနှစ် ဇွန်လ ၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၂၉/၂၀၁၅၊ ဆုံးဖြတ်ချက်အပိုဒ် ၁ အရ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍အောက်ဖော်ပြပါအချက်များအတိုင်းလိုက်နာဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပါကြောင်းသဘောထားမှတ်ချက်ပြန်ကြား ထားပါသည်-

(၁) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်း ဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility- CSR) အတွက် အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်းတို့ အပါအဝင်ကတိကဝတ်များအားလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်သွားရန်။

(၂) အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးတို့အတွက်ကနဦး ပတ်ဝန်းကျင် လေ့လာခြင်း (Initial Environmental Examination-IEE) ဆောင်ရွက်ပြီး IEE အစီရင်ခံစာရေးဆွဲ တင်ပြရန်။

(၃) အထက်ပါ လေ့လာဆန်းစစ်မှုရလာဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မှု အစီအစဉ်၊ စွန့်ပစ်ပစ္စည်းနှင့် စွန့်ပစ် အရည် စီမံခန့်ခွဲမှု အစီအစဉ်များ၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊နည်းဥပဒေ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ စည်ပင်သာယာရေး ဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီလိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်

ရှက်ရန်။ **ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့် အညီ လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိ ပြုချက်အား တင်ပြထားပါသည်။** **နောက်ဆက်တွဲ (ခ)**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** ကုန်ကြမ်း လိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီမျှမှု ရှိပါကြောင်း၊ ၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့် တည်ဆဲဥပဒေ လုပ်ထုံး လုပ်နည်းများနှင့် ညီညွတ်မှု ရှိပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား မှတ်ချက် ပြန်ကြား လာပါသည်။ **ကုမ္ပဏီမှ စက်မှုဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့် အညီ လိုက်နာဆောင်ရွက် မည်ဖြစ်ကြောင်း ဝန်ခံ ကတိ ပြုချက်အား တင်ပြထားပါသည်။**

**နောက်ဆက်တွဲ (ဂ)**

(ဃ) **CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီမှ** ကုန်ကြမ်း လိုအပ်ချက်မှာ ကိုက်ညီမှု မရှိ ကြောင်း မှတ်ချက်ပြုထားခြင်းအပေါ် ကုမ္ပဏီမှ ပြင်ဆင်တင်ပြခြင်းကို **CMP လုပ်ငန်း များ ကြီးကြပ်ရေး ကော်မတီမှ စိစစ် လက်ခံပြီးဖြစ်ပါသည်။** **နောက်ဆက်တွဲ (ဃ)**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Ascend Holding Co., Ltd. သည် ထိုင်ဝမ်ရှိ DBS Bank တွင် ၁၀-၃-၂၀၁၅ ရက်စွဲဖြင့် US$ ၁,၀၀၀,၀၈၅ ရှိကြောင်း ဘဏ် အထောက်အထား၊ ဘရူနိုင်းနိုင်ငံရှိ Ascend Holding Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်မိတ္တူ NBD/14221 (၅-၁-၂၀၁၅) နှင့် ၎င်းကုမ္ပဏီ၏ ရှယ်ယာ စာရင်းများအား တင်ပြထားပါ သည်။

၁၂။ မီးဘေးအန္တရာယ်ကာကွယ်ရေးအတွက်အရေးပေါ်မီးသတ်နည်းများအား စက်ရုံ၏ဌာနတိုင်း တွင် ကပ်ထားမည် ဖြစ်ကြောင်း၊ မီးလောင်လျှင် ဦးစားပေး သယ်ဆောင်ရန် အစီအစဉ်အလိုက် သီးခြားအုပ်စုများ ဖွဲ့စည်းမည် ဖြစ်ပါကြောင်း၊ စက်ရုံအတွင်း ဆေးလိပ်သောက်ခြင်းအား တားမြစ် မည်ဖြစ်ပြီး ဆေးလိပ်သောက် ဧရိယာသီးခြားထားပေးမည် ဖြစ်ပါကြောင်း၊ အဆောက်အဦ၏ အထပ်တိုင်းတွင်မီးသတ်အချက်ပေးစနစ်ထားရှိမည်ဖြစ်ပါကြောင်းနှင့် အရေးပေါ် ဝင်/ထွက်ပေါက် လမ်းညွှန်ဆိုင်းဘုတ်များ တပ်ဆင်ထားမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၃။ King Lead Ind Company Limitedမှ စက်ရုံ ဝန်ထမ်းများ သက်သာချောင်ချိရေး၊ လုပ်ငန်းခွင်သာယာရေးစီစဉ်ထားရှိမှုများ၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ဆိုင်ရာ လုပ်ငန်းများအတွက် နှစ်စဉ် အသားတင် အမြတ်ငွေ၏ ၂% ကို အသုံးပြုခြင်း ပါရှိသည့် Corporate Social Responsibility Plan တို့ကို တင်ပြထားပါသည်။

၁၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုပါရန် တင်ပြထားပါသည်။

၁၅။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၄၉/၂၀၁၄ ဖြင့် ထုတ်ပြန် ထားသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့် လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်း စာရင်းတို့တွင်မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုး အစား ဖြစ်ပါသည်။

၁၆။ ၂၀၁၅ ခုနှစ် မေလ ၂၅ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁၇/၂၀၁၅ အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၇။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စကို ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးမှ သဘောတူခွင့်ပြုပြီးမှသာ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် King Lead Ind Company Limited တည်ထောင်ကာ မြေကွက်အမှတ်(၁+၂)၊မြေတိုင်းရပ်ကွက်အမှတ် ၁၄၄/စက်မှု၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်း မြေဧရိယာ ၄.၈၃၆ ဧက (၁၉၅၇၀.၆၁၅စတုရန်းမီတာ) ကို ငှားရမ်း၍ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးနှင့် တစ်စိတ်တစ်ပိုင်း ပြီးစီးသည့် ဖိနပ်အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း အား ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်း နှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှယ်ယာရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| ၁။ | King Lead Ind Company Limited | Ascend Holding Co.,Ltd. Represented by | Rm.51, 5th Floor, Britannia House, Jalan Cator Bandar Seri Begawan BS 8811, Negara Brunei Darussalam |
| | | (က)Mr. Hung, Chia-Wei<br>Director<br>Taiwanese<br>PPNo. 307772078 | Rm.1702 Sino Centre, 582-592 Nathan Road, Mongkok, Kln, Hong Kong |
| | | (ခ) Mr. Chen, Hung-Lung<br>Director<br>Taiwanese<br>PPNo. 303944352 | Rm.51, 5th Floor, Britannia House, Jalan Cator Bandar Seri Begawan BS 8811, Negara Brunei Darussalam |
| | | (ဂ) Mr. Huang, Ching-Hua<br>Director<br>Taiwanese<br>PPNo. 303785532 | Rm.51, 5th Floor, Britannia House, Jalan Cator Bandar Seri Begawan BS 8811, Negara Brunei Darussalam |
| | | (ဃ)Mr. Lee, Yuan-Jiun<br>Director<br>Taiwanese<br>PPNo. 301571046 | Rm.51, 5th Floor, Britannia House, Jalan Cator Bandar Seri Begawan BS 8811, Negara Brunei Darussalam |
| | | Mrs. Hsu, Chu-Li<br>Director<br>Taiwanese<br>PPNo. 301750648 | 33 Lane 12 Jen-Te Road, Keng-Kou Tsun Wu-Fong, Hsiang Tai Chung |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၁-၅၁၃၆၈၀, ၀၉-၄၉၂၄၃၃၅၇

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဒေါ်မာမာခင်း

၄။ ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်းများ - CMPစနစ်ဖြင့်ဖိနပ်အမျိုးမျိုးနှင့်တစ်စိတ်တစ်ပိုင်း ပြီးစီးသည့် ဖိနပ်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်း

၅။ ကုမ္ပဏီ မှတ်ပုံတင်အမှတ်/နေ့စွဲ - -

၆။ ကုမ္ပဏီ မှတ်ပုံတင်သက်တမ်း ကုန်ဆုံးသည့် နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

တိုင်းဒေသကြီးအစိုးရအဖွဲ့ စာအမှတ် ၁၇၅၅၈ ရက်စွဲ ၁၆း၆း၁၅ ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၄၃) / လုံခြုံ
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇွန် လ ၁၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

1140
16-6-15

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆. ၅. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃/ န-၁၂၀၄ / ၂၀၁၅ (၆၇၁-ခ)

၁။ ဘရူနိုင်းဒါရုဆာလမ်နိုင်ငံ Ascend Holding Co., Ltd. မှ ၉၉%နှင့် Mrs. Hsu, Chu-Li မှ ၁%ထည့်ဝင်၍ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် King Lead Ind Company Limited တည်ထောင်ကာ မြေကွက်အမှတ် (၁+၂)၊ မြေတိုင်းရပ်ကွက်အမှတ် ၁၄၄/စက်မှု၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ ၄. ၈၃၆ ဧက (၁၉၅၇၀. ၆၁၅ စတုရန်းမီတာ)ကို ငှားရမ်း၍ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၉၅၂)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် မြေကွက်အမှတ် (၁+၂)၊ မြေတိုင်းရပ်ကွက်အမှတ် ၁၄၄/စက်မှု၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ ၄. ၈၃၆ ဧက (၁၉၅၇၀. ၆၁၅ စတုရန်းမီတာ)အား တစ်နှစ်အတွက် မြေတစ်စတုရန်းမီတာလျှင် USD ၅ နှုန်းဖြင့် ကနဦး(၁၀)နှစ်၊ ထပ်တိုး(၅)နှစ် (၂)ကြိမ် ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု ကတိပြုထားပါသည်။

D/2015/Cabinet/29..(1)

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၁၁. ၆. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၉/၂၀၁၅)၏ ဆုံးဖြတ်ချက်အပိုဒ် (၁)အရ King Lead Ind Company Limited ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးလုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
King Lead Ind Company Limited
လက်ခံစာတွဲ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ပြည်ထောင်စုဝန်ကြီးရုံး

JPT-3413
24.6.2015

စာအမှတ် ၃(၂)/၁၁(ဃ)(၆)/( ၁၈၂၀ /၂၀၁၅)

ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆ - ၅ - ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃ / န - ၁၂၀၄ / ၂၀၁၅ ( ၆၇၁ - ၈ )

၁။ ဘရူနိုင်းဒါရုဆာလမ်နိုင်ငံ Ascend Holding Co., Ltd. မှ ၉၉ % Mr. Hsu, Chu - Li မှ ၁ % ထည့်ဝင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် King Lead Ind Company Limited တည်ထောင်ကာ မြေကွက်အမှတ် ( ၁ + ၂ )၊ မြေတိုင်းရပ်ကွက်အမှတ် ၁၄၄ / စက်မှု၊ စက်မှုဇုန်၊ ဒဂုံမြို့သစ် ( တောင်ပိုင်း ) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်း မြေဧရိယာ ( ၄.၈၃၆ ) ဧက ( ၁၉၅၇၀.၆၁၅ စတုရန်းမီတာ ) ကို ငှားရမ်း၍ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စ နှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ အဆိုပါ ဖိနပ်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်းအား စိစစ်ရာတွင် လုပ်ငန်းဆောင်ရွက်ရာ၌ အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများဖြစ်သည့် Leather ၊ Nylon Fabric နှင့် ဆိုးဆေးပစ္စည်းများကြောင့် မြေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း ၊ လုပ်ငန်းသုံး စက်ပစ္စည်းများကြောင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း နှင့် စွန့်ပစ်ပစ္စည်းများကြောင့် ရေထု ၊ လေထု ညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ King Lead Ind Co., Ltd မှ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စ နှင့် ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြု လုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် ၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility -CSR)အတွက် အမြတ်ငွေ၏(၂%)အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များ အားလိုက်နာ အကောင်အထည် ဖော်ဆောင်ရွက်သွားရန်

D:\DHHM\CD\(22-6-2015).doc

(ခ) အဆိုပြု လုပ်ငန်းဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးအတွက် ကနဦး ပတ်ဝန်းကျင် လေ့လာခြင်း ( Initial Environmental Examination - IEE ) ဆောင်ရွက်ပြီး IEE အစီရင်ခံစာရေးဆွဲတင်ပြရန်၊

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် ၊ စွန့်ပစ်ပစ္စည်း နှင့် စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်များ ၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ် ၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan-EMP ) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန် ၊

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူလူထုတို့၏ဆန္ဒ နှင့် သဘောထားမှတ်ချက် ရယူဆောင်ရွက်ရန်၊

(င) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊နည်းဥပဒေ၊ညွှန်ကြားချက်များ၊လုပ်ထုံးလုပ်နည်းများ ၊ စည်ပင်သာယာရေးဥပဒေ ၊ နည်းဥပဒေ ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများ နှင့် အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန် ။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို
- ညွှန်ကြားရေးမှူးချုပ်
  ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
  ညွှန်ကြားရေးမှူးချုပ်
  ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
  ညွှန်ကြားရေးမှူးချုပ်
  သစ်တောဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**စက်မှုဝန်ကြီးဌာန**

IPF-3278
15-6-15

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၅-၂၀၁၆ (၈၁၄)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၁၂ ရက်

သို့
၅၇၆၅
၁၇.၆.၁၅
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆. ၅. ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃/န-၁၂၀၄ / ၂၀၁၅ (၆၇၁-ဃ)

၁။ King Lead Ind Co.,Ltd. သည် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် ၁၄၄/စက်မှု၊ မြေကွက်အမှတ်(၁+၂)တွင် CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးအစီအမံများနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီမျှမှု ရှိပါသည်။

၃။ သို့ပါ၍ King Lead Ind Co.,Ltd. မှ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

စာအမှတ်၊ ၃၄-အလ/ခွဲ(၂)၂၀၁၅(၇၁၄၀)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၁၄ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **King Lead Ind Company Limited မှ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆-၅-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက- ၃/န- ၁၂၀၄/၂၀၁၅(၆၇၁-င)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၁၄၄)စက်မှု မြေကွက်အမှတ်(၁+၂) ၌ ဘရူနိုင်းဒါရုဆာလမ်နိုင်ငံ မှ Ascend Holding Co., Ltd က ၉၉% နှင့် Mrs. Hsu, Chu-Li က ၁% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် King Lead Ind Company Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနှင့် CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်ရန် တင်ပြမှုအပေါ် CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ ဥက္ကဋ္ဌ ၊ အလုပ်ရုံနှင့် အလုပ်သမား ဥပဒေစစ်ဆေးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးဝင်းရှိန်နှင့် ရာဘာပစ္စည်းစက်ရုံ လက်ထောက်အထွေထွေမန်နေဂျာ ဒေါ်နှင်းယဉ်လှ တို့သည် ၄-၆-၂၀၁၅ ရက်နေ့တွင် တာဝန်ရှိသူများကို တွေ့ဆုံ မေးမြန်းခဲ့ပါသည်။

၂။ King Lead Ind Company Limited ၏ အဆိုပြုချက်အပေါ် အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) **C.M.P ကုန်ကြမ်း လိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ/မရှိ**

အဆိုပြုစာတမ်းတွင် ထုတ်လုပ်မည့် ဖိနပ်ကုန်ချော ၅ မျိုးနှင့် တစ်ပိုင်းတစ်စ ဖိနပ်ကုန်ချော ၂ မျိုးတို့ ထုတ်လုပ်ဆောင်ရွက်ရန် အသုံးပြုကုန်ကြမ်းအမျိုးအစား ၈၁ မျိုး သုံးစွဲရန်လိုအပ်ပါသည်။ Unit Norm အရ ကုန်ချောထုတ်လုပ်မှုအပေါ် ကုန်ကြမ်းလိုအပ်ချက်နှင့် အဆိုပြု ကုန်ကြမ်းလိုအပ်ချက်မှာ ကိုက်ညီမှု မရှိကြောင်း တွေ့ရှိရပါသည်။

(ခ) C.M.Pလက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိ/မရှိ

First Year Production

| | | | | | | | |
|---|---|---|---|---|---|---|---|
| (1) | Man's Shoes | - | 500000 pairs | x | 0.6 US$/pair | = | 300000 US$ |
| (2) | Ladies' Shoes | - | 600000 pairs | x | 0.6 US$/pair | = | 360000 US$ |
| (3) | Boots | - | 600000 Paris | x | 1.25 US$/pair | = | 750000 US$ |

| | | | | | | | |
|---|---|---|---|---|---|---|---|
| (4) | Ladies' Sandal Shoes | - | 600000pairs | x | 0.6US$/pair | = | 360000 US$ |
| (5) | Children Shoes | - | 500000 pairs | x | 0.6 US$/pair | = | 300000 US$ |
| (6) | Insole | - | 500000 pairs | x | 0.3 US$/pair | = | 150000 US$ |
| (7) | Semi Products | - | 500000 pairs | x | 0.6 US$/pair | = | 300000 US$ |
| | | | Total Income | | | | 2520000 US$ |

First Year Production

| | | | | | |
|---|---|---|---|---|---|
| (A) | Total Income | | | - | 2520000 US$ |
| | Exchange Rate 1 US$ = 1050 Kyats | | | | |
| (B) | Expenditure Cost | | | - | 2323244 US$ |
| | (1) | Direct Labour Cost | 96000 US$ + 1108200000 Kyats | - | 1151429 US$ |
| | (2) | Production Overhead | 200000 US$ + 20000000 Kyats | - | 219048 US$ |
| | (3) | Rental Charges | 97853 US$ | - | 97853 US$ |
| | (4) | Depreciation | 400306 US$ | - | 400306 US$ |
| | (5) | Electricity Charges | 100000 US$ | - | 100000 US$ |
| | (6) | Fuel Charges | 80000 US$ | - | 80000 US$ |
| | (7) | Miscelleneous | 50000 US$ + 1000000 Kyats | - | 50952 US$ |
| | (8) | Entertainment | 50000 US$ + 1000000 Kyats | - | 50952 US$ |
| | (9) | Administraive Overhead | 50000 US$ + 10000000 Kyats | - | 59523 US$ |
| | (10) | Indirect Labour Cost | 52800 US$ + 20400000 Kyats | - | 72229 US$ |
| | (11) | Medical Charges | 20000 US$ | - | 20000 US$ |
| | (12) | Miscelleneous | 20000 US$ + 1000000 Kyats | - | 20952 US$ |
| (C) | Net Profit | | | | 196756 US$ |

အဆိုပြုချက် ပထမနှစ်ထုတ်လုပ်မှုတွင် C.M.P လုပ်ခရရှိမှုများသဖြင့် ဝင်ငွေနှင့် အသုံးစရိတ်ကာမိ၍ အမြတ်ရရှိပါသဖြင့် C.M.P လုပ်ခနှုန်းထား ဆီလျော်မှုရှိပါသည်။

(ဂ) **နှစ်စဉ်ထုတ်လုပ်မှု၊ စက်အင်အား၊ လူအင်အားအချိုးအစား ညီမျှမှု ရှိ/မရှိ**

အဆိုပြုချက်၌ စက်အလုံးရေ ၁၆၇၂ လုံး ကို (၂)နှစ်အတွင်း တပ်ဆင်သုံးစွဲပြီး အလုပ်သမားများကို ပထမနှစ်တွင် Skilled Workers ၃၀၀ ဦး၊ Unskilled Workers ၃၀၀ ဦး ၊ Cutting Staff ၁၀၀ ဦး၊ Finishing and Quality Controllers ၂၄၀ ဦး၊ Supervisors ၃ ဦး နှင့် Foreign Staff ၉ ဦး ၊ စုစုပေါင်း ၉၅၂ ဦး ဖြင့် ထုတ်လုပ်ဆောင်ရွက်မည်ဖြစ်ပြီး ဒုတိယနှစ်တွင် ၁၈၉၂ ဦးသို့ တိုးမြှင့်ခန့်ထားပြီး ဆောင်ရွက်မည်ဖြစ်၍ အချိုးအစား ညီမျှမှုရှိပါသည်။

၃။ သို့ဖြစ်၍ King Lead Ind Company Limited ကို ခွင့်ပြုသင့်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူပြုနိုင်မည်ဖြစ်၍ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်သင့်ပါကြောင်း တင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)

(ထင်အောင်၊ အတွင်းရေးမှူး)

(ဒုတိယဝန်ကြီး၊အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန)

မိတ္တူကို

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)

အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန

(CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)

King Lead Ind Company Limited

ရုံးလက်ခံ

မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

စာအမှတ်၊ ၃၄-အလ/ခွဲ(၂)၂၀၁၅( ၈၈၇၄)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ ၃၁ ရက်

၁၅၆.၄၀၁၁
၁.၉.၁၅

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

၁-၁၅၅၇
၂/၉/၁၅

အကြောင်းအရာ။ King Lead Ind Company Limited မှ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း အဆိုပြုလွှာထပ်မံစိစစ်ချက်ပေးပို့ခြင်းကိစ္စ

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇-၈-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက- ၃/န- ၁၂၀၄/၂၀၁၅(၁၀၉၄)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အထက်ရည်ညွှန်းပါစာဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄၄)စက်မှု၊ မြေကွက်အမှတ် (၁+၂) ရှိ King Lead Ind Co., Ltd မှ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်း အဆိုပြုလွှာထပ်မံစိစစ်ချက်ပေးပို့ခြင်းကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ဆောင်ရွက်ချက်ကိုအောက်ပါအတိုင်း တင်ပြအပ်ပါသည်-

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| ၁ | CMPလုပ်ငန်းများကြီးကြပ်ရေးကော်မတီ | ဦးဝင်းရှိန် | CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်း စစ်ဆေးရေးအဖွဲ့၊ ဥက္ကဋ္ဌ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်ရုံနှင့်အလုပ်သမား ဥပဒေစစ်ဆေးရေးဦးစီးဌာန | လက်ခံနိုင်ပါသည်။ | |

ဥက္ကဋ္ဌ(ကိုယ်စား)
(ထင်အောင်၊ အတွင်းရေးမှူး)
(ဒုတိယဝန်ကြီး၊အလုပ်သမားအလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန)

မိတ္တူကို
အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)

အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန

(CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)

King Lead Ind Co., Ltd

ရုံးလက်ခံ

မျှောစာတွဲ

PROPOSAL TO MAKE INVESTMENT IN THE REPUBLIC OF THE UNION OF

MYANMAR

By

"KING LEAD IND COMPANY LIMITED"

FOR "MANUFACTURING OF ALL KIND OF FOOTWEAR AND SEMI FOOTWEAR PRODUCTS ON CMP BASIC"

UNDER THE REPUBLIC OF THE UNION OF MYANMAR FOREIGN INVESTMENT LAW

To

The Chairman,

Myanmar Investment Commission,

Letter No: KL/MIC/2015 (001 )

Date :

**Subject : Application for Investment Permit for establishing 100 % foreign company for manufacturing of all kind of footwear and semi footwear on CMP basic**

Your Excellency:

We , **King Lead Ind Co., Ltd**, have the honor to submit the proposal to set up one hundred percent foreign company to be named **King Lead Ind Co., Ltd** in accordance with the Republic of the Union of Myanmar Foreign Investment Law and Myanmar Company Act in order to carry out the business of manufacturing of all kind of footwear and semi footwear on C.M.P basis at Plot No-1, 2 , Block No-144 , Industrial Zone, South Dagon Township, Yangon. We submit the following supporting documents along with a proposal.

1. Proposal of the Promoter to make Foreign Investment in the Union of Myanmar
2. Draft Land-Lease Agreement for Plot No-1, 2 , Block No-144 , Industrial Zone, South Dagon Township, Yangon Region.
3. References for Business and financial standing
4. Draft of Memorandum of Association and Articles of Association

Together with application for investment permit, we are applying for exemptions and reliefs specified in Section 27 of the Union of Myanmar Foreign Investment Law covering the following:

(a) income tax exemption for a period of five consecutive years including the year of commencement on commercial scale to any business for the production of goods or services, moreover, in case where it is beneficial to the Union, income tax exemption or relief for suit able period depending upon the success of the business in which investment is made;

(b) exemptions or reliefs from income tax on profits of the business if they are maintained for re-investment in a reserve fund and re-invested therein within 1 year after the reserve is made;

(c) right to deduct depreciation from the profit, after computing as the rate of deducting depreciation stipulated

by the Union, in respect of machinery, equipment, building or other capital assets used in the business or the purpose of income tax assessment;

(d) if the goods produced by any manufacturing business are exported, relief from income tax up to 50 percent on the profits accrued from the said export;

(e) right to pay income tax on the income of foreigners at the rates applicable to the citizens residing within the Union;

(f) right to deduct expenses from the assessable income, such expenses incurred in respect of research and development relating to the business which are actually required and are carried out within the Union;

(g) right to carry forward and set-off the loss up to 3 consecutive years from the year the loss is actually sustained within 2 years following the enjoyment of exemption or relief from income tax as contained in sub-section (a), for each business;

(h) exemption or relief from custom duty or other internal taxes or both on machinery, equipment, instruments, machinery components, spare parts and materials used in the business, which are imported as they are actually required for use during the period of construction of business;

(i) exemption or relief from customs duty or other internal taxes or both on raw materials imported for production under CMP basis throughout investment period;

(j) if the volume of investment is increased with the approval of the Commission and the original investment business is expanded during the permitted period, exemption or relief from custom duty or other internal taxes or both on machinery, equipment, instruments, machinery components, spare parts and materials used in the business which are imported as they are actually required for use in the business expanded as such;

(k) exemption or relief from commercial tax on the goods produced for export;

Faithfully yours,

Mr.Lee,Yuan-Jinn
Promoter

စာအမှတ်   EIA-EMP ၀၉/၁၅
ဇွန်လ ၁၆ရက် ၂၀၁၅ခုနှစ်

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့ ။

အကြောင်းအရာ။ **King Lead Ind Co., Ltd** သည်ရန်ကုန်တိုင်းဒေသကြီး၊တောင်ဒဂုံမြို့နယ်၊တောင်ဒဂုံစက်မှုဇုန်၊မြေကွက်အမှတ်(၁၄၄)အကွက်အမှတ်(၁)(၂)ရှိ မြေဧရိယာ(၄. ၈၃၆) ဧကပေါ်ရှိအဆောက်အဦတွင် **CMP** စနစ်ဖြင့်ဘိနပ်အမျိုးမျိုး **(Footwear & Semi Footwear Products)** ထုတ်လုပ်ခြင်းလုပ်ငန်းစက်ရုံတည်ဆောက်ခွင့်တင်ပြရာတွင်သဘာဝပတ်ဝန်းကျင်နှင့်လူမှုပတ်ဝန်းကျင်ဆိုင်ရာများနှင့်ပတ်သက်သည့်ကိစ္စ။

(၁) အထက်ပါကိစ္စနှင့်ပတ်သက်၍ **King Lead Ind Co., Ltd** သည်ရန်ကုန်တိုင်းဒေသကြီး၊တောင်ဒဂုံမြို့နယ်၊တောင်ဒဂုံစက်မှုဇုန်၊မြေကွက်အမှတ်(၁၄၄)အကွက်အမှတ်(၁)(၂)ရှိ မြေဧရိယာ(၄. ၈၃၆) ဧကပေါ်ရှိအဆောက်အဦတွင် **CMP** စနစ်ဖြင့်ဘိနပ် အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းစက်ရုံတည်ဆောက်ခြင်းနှင့်ပတ်သက်၍အောက်ဖော်ပြပါအစီအရင်ခံစာများအတွက်ကျွန်တော်များ Kaung Kyaw Say Engineering Co., Ltd မှ ၁၆-၆-၁၅ နေ့ တွင်လုပ်ငန်းများတာဝန်ယူစတင်လုပ်ဆောင်လျက်ရှိပါသည်။

(က)ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်နိုင်မှုများဆန်းစစ်ခြင်း၊
Environmental Impact Assessment (EIA)
(ခ )ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့် ခွဲမှုအစီအစဉ်များ၊
Environmental Management Plan (EMP)

(၂)အဆိုပါအစီအရင်ခံစာများကို ၁၆. ၆. ၁၅ နေ့ တွင်စတင်ဆောင်ရွက်မည်ဖြစ်ပြီး၊အဆိုပါရက်မှ ၂လခွဲအတွင်းပြီးစီးအောင်ဆောင်ရွက်၍ဆက်လက်တင်ပြသွားမည်ဖြစ်ပါကြောင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ထွန်းနိုင်အောင်
ဥက္ကဋ္ဌ

မိတ္တူ
(၁)မန်းနေဂျင်းဒါရိုက်တာ၊
**King Lead Ind Co., Ltd**
(၂)ရုံးလက်ခံ။

# ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ကမကထ ပြုသူ၏ ဆောင်ရွက်ရန် အဆိုပြုချက်

# PROPOSAL OF THE PROMOTER TO MAKE FROREIGN INVESTMENT IN THE REPUBLIC OF THE UNION OF MYANMAR

Form (I)

# PROPOSAL OF THE PROMOTER TO MAKE FOREIGN INVESTMENT IN THE UNION OF MYANMAR

To

Chairman

Myanmar Investment Commission.

*Reference No. KL /MIC / 2015(00 )*

*Date*

I wish to make investment in the Union of Myanmar in accordance with the Union of Myanmar Foreign Investment Law, and I herewith apply for permission furnishing the following particulars-

1. Promoter's -

| | | |
|---|---|---|
| *(a)* | Name | **Mr.Lee,Yuan - Jiun** |
| *(b)* | Father's name | **Mr.Lee,Chin Shan** |
| *(c)* | ID No./ National registration Card No./ Passport No. | **P.P No: 301571046** |
| *(d)* | Citizenship | **Republic of China (Taiwanese)** |
| *(e)* | Address | |
| | (i) Address in Myanmar | - |
| | (ii) Residence abroad | **Rm. 51, 5th Floor,Britannia House,Jalan Cator Bandar Seri Begawan BS 8811,Negara Brunei Darussalam** |
| *(f)* | Name of principal organization | **Ascend Holding Co., Ltd** |
| *(g)* | Type of business | **Manufacturing** |
| *(h)* | Principal company's address | **Rm. 51, 5th Floor,Britannia House,Jalan Cator Bandar Seri Begawan BS 8811,Negara Brunei Darussalam** |

2. If investment is to be made by joint-venture, the particulars of the persons wishing to participate in the Joint-Venture with the promoter-Partner 1

| | | |
|---|---|---|
| *(a)* | Name | - |
| *(b)* | Father's name | - |
| *(c)* | ID No./ National registration Card No./ Passport No. | - |
| *(d)* | Citizenship | - |
| *(e)* | Address | |
| | (i) Address in Myanmar | - |
| | (ii) Residence abroad | - |
| *(f)* | Name of principal organization | - |
| *(g)* | Type of business | - |
| *(h)* | Principal company's address | - |

Remark: The following documents need to attach according to above paragraph (1) and (2).

(1) Company Registration Certificate (Copy);
(2) National Registration Card (Copy) and Passport (Copy);

3. Evidence about the business and financial conditions of the participant of the participants of the proposed investment business.
4. Type of business in which investment is to be made-

| | |
|---|---|
| *(a)* Production | **Manufacturing of all kind of Footwear and Semi Footwear products on CMP basis** |
| *(b)* Services business related with manufacturing | - |
| *(c)* Services | - |
| *(d)* Others | - |

Remark: Expression about the nature of business with regard to the above paragraph (3).

5. Type of business organization to be formed-

| | |
|---|---|
| *(a)* One hundred Percent | **King Lead Ind Co.,Ltd** |
| *(b)* Joint venture<br>(i) Foreigner and Citizen: | - |
| (ii) Foreigner and Government Department/ Organization: | - |
| *(c)* By contractual basis<br>(i) Foreigner and Citizen: | - |
| (ii) Foreigner and Government Department/ Organization: | - |

Remark: The following information needs to attach for the above paragraph (4):-

(i) Share ratio for the authorized capital from abroad and local, names, citizenship, addresses, and occupations of directors;

(ii) Joint-Venture Contract (Draft) and recommendation of the Union Attorney General Office if the investment is related with the State.

**(iii)** Contract (Agreement) (draft)

5. Particulars relating to company incorporation-

| | |
|---|---|
| *(a)* Authorized capital | **US$ 7 Miillion** |
| *(b)* Types of shares | **Ordinary (US$ 100 per share)** |
| *(c)* Number of shares | **70000 shares** |

**Remark: Memorandum of Association and Articles of Association of the Company shall be submitted with regard to above paragraph 5.**

6. Particulars relating to capital of the investment permit- (US$ 1 = Kyat 1050)

| | | *Equity (US$)* | *Total (US$)* |
|---|---|---|---|
| *(a)* | Amount of local capital to be contributed | | |
| *(b)* | Amount of foreign capital to be brought in | 4,903,057 | 4,903,057 |
| | Total | 4,903,057 | 4,903,057 |

| | | |
|---|---|---|
| *(c)* | Annually or period of proposed capital to be brought in | **After getting MIC Permit (Within 1 years)** |
| *(d)* | Last date of capital brought in | **After getting MIC Permit (Within 1 years)** |
| *(e)* | Proposed duration of investment | **Initial 10 years (extendable and renewable for another 5 years 2 times )** |
| *(f)* | Commencement date of construction | **As soon as after getting MIC Permit** |
| *(g)* | Construction period | **Within 1 years (After get the MIC Permit)** |

**Remark: Describe with annexure if it is required for above Para 6(c).**

7. Details of foreign capital to be brought in-

| | | **Total** |
|---|---|---|
| *(a)* | Value of Machineries, (to enclose detail statement) | **3,206,257** |
| *(b)* | Foreign Currency | **150,000** |
| *(c)* | Office equipment | **46,800** |
| *(d)* | Building Construction Cost | **1,500,000** |
| *(e)* | Value of rights which can be evaluated, such as license trade mark, patent rights | |
| *(f)* | Value of technical know-how | |
| | Total | 4,903,057 |

**Remark: The value of permission shall be submitted for the above para (e) and (f).**

8. Details of local capital to be contributed --

| | | *Kyat (Million)* |
|---|---|---|
| *(a)* | Amount of cash | **Nil** |
| *(b)* | Value of machineries and equipment (to enclose detail statement) | **Nil** |
| *(c)* | Rental building for building/land (Capitalized rent for land for 30 years) | **Nil** |
| *(d)* | Cost of building construction | **Nil** |
| *(e)* | Value of furniture and asset (to enclose detail statement) | **Nil** |
| *(f)* | Value of initial raw materials requirement (to enclose detail statement) | **Nil** |
| *(g)* | Others | **Nil** |
| | Total | **Nil** |

9. Particulars about the investment business-

| | | |
|---|---|---|
| *(a)* | Investment location/ places | **Plot No - 1 , 2 , Block No - 144 , Industrial Zone,South Dagon Township, Yangon** |
| *(b)* | Type and area requirement for land or land and building | |
| | (i) Location | **Plot No - 1 , 2 , Block No - 144 , Industrial Zone,South Dagon Township, Yangon** |
| | (ii) Number of land/ building and area | **Total Land Area 4.836 Acre ( 19570.615 sq meter)**<br>**Factory Building ( 80 m x 36 m) 2 Floor 3 Building**<br>**Office Building ( 50 m x 16 m) 3 floor 2 Building** |
| | (iii) Owner of the land | |
| | (aa) Name/ Company/ Department | **Daw Nann Lee** |
| | (bb) National Registration Card No. | **9/Ma Ya Ta (N)019501** |
| | (cc) Address | **No.148 ,82 Street, between (34 x 35) , Chan Aye Tharzan Township , Madalay Region** |
| | (iv) Type of land | **Industrial Land** |
| | (v) Period of Grant | **60 Years** |
| | (vi) Lease period | **2014 to 2024** |
| | (vii) Lease rate | - |
| | (aa) Land | **US$ 5 / Square Meter** |
| | (bb) Building | - |
| | (viii) Ward | **Block No - Extension - 144** |
| | (ix) Township | **South Dagon Township** |
| | (x) State/ region | **Yangon Region** |

